## အပိုင်း(၃)
## အဓိပ္ပါယ်ဖွင့်ဆိုချက်

၃-၁။ ဤသဘောတူစာချုပ်တွင် အသုံးပြုမည့် အောက်ပါစကားရပ်များကိုဖော်ပြပါအတိုင်းအဓိပ္ပါယ်ကောက် ယူရမည်။

(က) ကျောက်မီးသွေးဆိုသည်မှာ စာချုပ်အရ လုပ်ပိုင်ခွင့်ရရှိသော လုပ်ကွက်အတွင်းရှိ ကျောက်မီး သွေးကြောများမှ တွင်းထွက်အတိုင်း ထုတ်ယူသော ကျောက်မီးသွေးကိုဆိုသည်။

(ခ) ဘဏ္ဍာရေးနှစ် ဆိုသည်မှာ နှစ်စဉ် ပြက္ခဒိန်နှစ် တစ်နှစ်၏ ဧပြီလ(၁)ရက်နေ့မှအစပြု၍ နောင်လာမည့်နှစ်၏ မတ်လ(၃၁)ရက်နေ့အထိ (၁၂)လ ကာလကိုဆိုသည်။

(ဂ) တန်ချိန်ဆိုသည်မှာ (၂၂၄၀)ပေါင်ရှိသော တန်ကိုဆိုလိုသည်။

## အပိုင်း(၄)
## လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်

၄-၁။ ဤသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်သည် ဤစာချုပ်နှင့်ပူးတွဲပါရှိသည့် နောက် ဆက်တွဲ(က)နှင့်နောက်ဆက်တွဲ(က-၁)တွင် မြေပုံညွှန်းနှင့်တကွ ဖော်ပြထားသည့် ဧရိယာနယ်နမိတ် အတိုင်းဖြစ်သည်။ အကယ် ၍အထက်ပါလုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်ကို နိုင်ငံတော်အစိုးရစီမံကိန်းတစ် ခုခု အလို့ငှာ အသုံးပြုရန်လိုအပ်ခဲ့လျှင် အခြားလုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်တစ်ခုခုကို အစိုးရမှ ကန်ထရိုက်တာသို့ အစားထိုးပေးအပ်မည်ဖြစ်ကြောင်း၊စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့က သဘောတူ ကြပါသည်။ ထိုအခါ ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသောလုပ်ကွက်ကိုအစိုးရ ကပြန်လည် လက်ဝယ်ရယူနိုင်ရန် ပြောင်းရွှေ့ဖယ်ရှားပေးရမည်ဖြစ်ပြီးမိမိအား အစားထိုးပေးအပ်သော လုပ်ကွက်ကို ပြောင်းလဲလက်ဝယ်ရယူရမည်ဖြစ်ပါသည်။

၄-၂။ ကန်ထရိုက်တာသည် မြေငှားခ (Dead Rent) ကိုမြန်မာ့သတ္တုတွင်းဥပဒေ၊နည်းဥပဒေပါ ပြဋ္ဌာန်း ချက်များအတိုင်း တစ်နှစ်လျှင် တစ်စတုရန်းကီလိုမီတာကို ၃၀၀၀/-(ကျပ်သုံးထောင်တိတိ) နှုန်းဖြင့် သတ္တုတွင်းဝန်ကြီးဌာန၊သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။

## အပိုင်း(၅)
## လုပ်ငန်းအစီအစဉ်

၅-၁။ ကန်ထရိုက်တာသည် ကျောက်မီးသွေးတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းအတွက်လုပ်ငန်းအစီအစဉ်

ရေးဆွဲ၍ ဤစာချုပ် လက်မှတ်ရေးထိုးပြီး(၁)လအတွင်း အမှက်(၃)သတလသို့ တင်ပြရမည်။

၅-၂။ ကန်ထရိုက်တာမှ တင်ပြသော လုပ်ငန်းအစီအစဉ်များကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူ အတည်ပြုရမည်။ ထိုသို့အတည်ပြုထားသော လုပ်ငန်းအစီအစဉ်များသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၅-၃။ ကန်ထရိုက်တာသည် အထက်ပါလုပ်ငန်းအဆင့်များကို အထိရောက်ဆုံးနှင့် နိုင်ငံတကာမှလက်ခံကျင့်သုံးသည့် သတ္တုရှာဖွေတူးဖော်ထုတ်လုပ်မှုအဆင့်အတန်းနှင့် အင်ဂျင်နီယာနည်းပညာများနှင့်အညီ အထိရောက်ဆုံးချမှတ်ဆောင်ရွက်ရမည်။

## အပိုင်း(၆)
## ရင်းနှီးမြှုပ်နှံမှုပမာဏ

၆-၁။ ကန်ထရိုက်တာသည်လုပ်ငန်းအစီအစဉ်အတွက် ရင်းနှီးမြှုပ်နှံမှုငွေ ပမာဏအဖြစ် အနည်းဆုံးမြန်မာကျပ်ငွေ ၁၅၀၀၀၀၀၀/-( ကျပ်သိန်းတစ်ရာငါးဆယ် ) ကိုရင်းနှီးမြှုပ်နှံရမည်။ ရင်းနှီးမြှုပ်နှံမှုငွေတစ်ရပ်လုံးကိုကန်ထရိုက်တာမှကျခံရမည်။

## အပိုင်း(၇)
## တူးဖော်ထုတ်လုပ်ခြင်း

၇-၁။ ကန်ထရိုက်တာသည် နိုင်ငံတကာမှ လက်ခံကျင့်သုံးသည့် သတ္တုတူးဖော်ထုတ်လုပ်မှုအဆင့်အတန်းနှင့် အင်ဂျင်နီယာနည်းပညာများနှင့်အညီ ကျောက်မီးသွေးထုတ်လုပ်ရေးအတွက် အထက်အပိုင်း(၅-၁)ပါ အတည်ပြုထားပြီးဖြစ်သော လုပ်ငန်းအစီအစဉ်များအတိုင်းဆောင်ရွက်ရမည်။

၇-၂။ ကျောက်မီးသွေးတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကို ကနဦးတွင် တစ်နှစ်လျှင်(၁၀၀၀၀)တန် တူးဖော်ထုတ်လုပ်ရန်နှင့် ကျောက်မီးသွေးသိုက်ပမာဏနှင့်ဝယ်လိုအားတို့အပေါ်မူတည်၍ တိုးမြှင့်ထုတ်လုပ်နိုင်သည်။

## အပိုင်း(၈)
## စာချုပ်သက်တမ်း

၈-၁။ ဤသဘောတူစာချုပ်အရ ကျောက်မီးသွေးတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းများအတွက် ခွင့်ပြုသည့်ကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၁၀)နှစ်ဖြစ်သည်။ သက်တမ်းတိုးလိုပါက

ဤသတ်မှတ်ခွင့်ပြုကာလမကုန်ဆုံးမီ(၆)လအလိုတွင် ကန်ထရိုက်တာသည် နောက်ထပ်ကာလ တိုးမြှင့်ပေးနိုင်ရန်အတွက် အမှတ်(၃)သတလ သို့လျှောက်ထားနိုင်သည်။ ယင်းသို့သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ရမှသာလျှင် အတည်ဖြစ်စေရမည်။

## အပိုင်း(၉)
## အထွေထွေတာဝန်များ

၉-၁။ **ကန်ထရိုက်တာ၏တာဝန်များ**

ကန်ထရိုက်တာသည်အောက်ပါတို့ကိုတာဝန်ယူရမည်။

(က) အမှတ်(၃)သတလ သို့တင်ပြအတည်ပြုထားသည့်လုပ်ငန်းအစီအစဉ်အရ၊ကျောက်မီးသွေး တူးဖော်ထုတ်လုပ်ရာတွင်ကုန်ကျစရိတ်၊သယ်ယူပို့ဆောင်မှုကုန်ကျစရိတ်နှင့်အခြားအထွေထွေ ကုန်ကျစရိတ်များအားလုံးကို ကျခံရမည်။

(ခ) ဤစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်၌ အမှတ်(၃)သတလသို့ပေးပို့ထားသောလုပ်ငန်း အစီအစဉ်များအတိုင်းသာ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကိုပြုလုပ်ရမည်။

(ဂ) တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းများကိုကောင်းမွန်မှန်ကန်သော သတ္တုတူးဖော်မှုအတွေ့အ ကြုံများအပေါ်အခြေခံ၍ အကောင်းဆုံးဖြစ်အောင် လိုက်နာဆောင်ရွက်ရန်နှင့်နောင်ဆက်လက် ဆောင်ရွက်ရမည့်ထုတ်လုပ်မှုလုပ်ငန်းများကို မထိခိုက်အောင်ဆောင်ရွက်ရမည်။

(ဃ) သတ်မှတ်ခွင့်ပြုထားသော လုပ်ကွက်၊သို့မဟုတ် နောက်ဆက်တွဲ(က)ပါ တူးဖော်ထုတ်လုပ် မည့် ဧရိယာအမှတ်အသားအပြင်ဘက်တွင် အမှတ်(၃)သတလ၏စာဖြင့်ခွင့်ပြုချက်မရှိဘဲ ကျောက်မီးသွေးတူးဖော်ခြင်းလုံးဝမပြုရ။

(င) ကျောက်မီးသွေးတူးဖော်ထုတ်လုပ်မှုဆောင်ရွက်ရာတွင်ကုန်ထုတ်လုပ်မှုစွမ်းအားအပြည့် အဝ ရရှိနိုင်ရေးအတွက် လုပ်ငန်းကျွမ်းကျင်သူများကိုလုံလောက်စွာခန့်ထားရမည်။

(စ) လုပ်ငန်းအစီအစဉ်များကိုဆောင်ရွက်ရာတွင်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရက ပြဋ္ဌာန်း ထုတ်ပြန်ထားသော မြန်မာ့သတ္တုတွင်းဥပဒေ အပါအဝင် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများ၊ နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများ၊အမိန့်ကြော်ငြာစာများ၊ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဆ) ကျောက်မီးသွေးတူးဖော်ထုတ်လုပ်ခြင်း၊သိုလှောင်ခြင်း၊သယ်ယူရောင်းချခြင်းတို့နှင့်ပတ်သက် သည့် လစဉ်အစီရင်ခံစာကို နှစ်ဖက်သဘောတူထားသည့်ပုံစံများဖြင့် ဖြည့်သွင်း၍မိတ္တူ(၁)

စောင်စီကို အမှတ်(၃)သတလ နှင့် သတ္တုတွင်းဦးစီးဌာနသို့ လဆန်းပြီးရက်သတ္တပတ်(၁)ပတ် အတွင်းအချိန်မှန်မှန်ပေးပို့ရမည်။

(ဓ) ကျွမ်းကျင်မှုဆိုင်ရာ သုံးသပ်ချက်များပါဝင်သော သုံးလပတ် အစီရင်ခံစာများကို ပေးပို့ရန်အချိန် ကျရောက်သည့်နေ့မှ ရက်သတ္တပတ်(၁)ပတ်အတွင်းတင်ပြရန်နှင့် နှစ်ချုပ်အစီရင်ခံစာများကို လည်း ပေးပို့ရန်အချိန်ကျရောက်သည့်နှစ်စဉ်ဧပြီလဆန်းမှတစ်လအတွင်း အထက်အပိုဒ် ၉-၁(ဆ)ပါအတိုင်း အချိန်မှန်မှန်ပေးပို့ရမည်။

(ဈ) လုပ်ကိုင်ခွင့်ရှိသောလုပ်ကွက်ဧရိယာနယ်နမိတ်အတွင်းရှိ သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်း၊သစ်ခုတ်ခြင်းမပြုလုပ်ရ။ လုပ်ကွက်ရှိမလွတ်ကင်းသောသစ်ပင် များကို ခုတ်လှဲရန်လိုအပ်ပါက သစ်တောဦးစီးဌာန၏ကြိုတင်ခွင့်ပြုချက်ရယူရန်နှင့် ခုတ်လှဲ သောသစ်ပင်များကို အသုံးပြုလိုလျှင် သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသောဈေးနှုန်းဖြင့် လက်ခံဝယ်ယူရမည်။

(ည) ကျောက်မီးသွေးများတူးဖော်ပြီးမြေဧရိယာတွင်သစ်ပင်စိုက်ပျိုးနိုင်သည်အထိ မြေပြန်လည်ဖို့ပေး ရန် နှင့် သစ်ပင်ပြန်လည်စိုက်ပျိုးမည့် ကုန်ကျစရိတ်ကိုကျခံပေးရမည်။

(ဋ) ခွင့်ပြုချက်မရှိဘဲနှင့်ကျောက်မီးသွေးတူးဖော်ရန်သတ်မှတ်ထားသည့်ဧရိယာအတွင်း၌သော် လည်းကောင်း၊အပြင်၌သော်လည်းကောင်း၊ သစ်ပင်ခုတ်လှဲဥပဒေအရအရေးယူခြင်းနှင့် ကျောက်မီးသွေးတူးဖော်ခွင့်ဖျက်သိမ်းသည်အထိ ပြင်းထန်စွာအရေးယူခြင်းတို့ကို ကန်ထရိုက် တာမှ သဘောတူလက်ခံရမည်။

(ဌ) ကျောက်မီးသွေးတူးဖော်မည့်လုပ်ကွက်နယ်နမိတ်သတ်မှတ်ခြင်းလုပ်ငန်းအတွက် ကုန်ကျစရိတ် ကိုကန်ထရိုက်တာမှ ကျခံရမည်။

(ဍ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက်လေထု၊ရေထု၊မြေထုညစ်ညမ်းမှု မဖြစ်စေရန်လိုအပ်သည် များကိုဆောင်ရွက်ပေးရမည်။

(ဎ) ကျောက်မီးသွေးတူးဖော်ခြင်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများသည် မြစ်ချောင်း၊အင်းအိုင် များကိုသော်လည်းကောင်း၊အများပြည်သူတို့နှင့်သက်ဆိုင်သောလမ်းများ၊အဆောက်အဦးများကို သော်လည်းကောင်း၊ညစ်ညမ်းမှု၊ပိတ်ဆို့မှုနှင့်အခြားပတ်ဝန်းကျင်ညစ်ညမ်းထိခိုက်မှုများ မရှိ စေရန် ဆောင်ရွက်ရမည်။

## အပိုင်း(၁၁)
## ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားခြင်း

၁၁-၁။ တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော ကျောက်မီးသွေးစုစုပေါင်း၏(၃)ရာခိုင်နှုန်းကို နိုင်ငံတော်အတွက် ဓာတ်သတ္တုခွန်အဖြစ် ပေးဆောင်ပြီး ကျန်ကျောက်မီးသွေးများကို အမှတ်(၃)သတလမှ (၃၀)ရာခိုင်နှုန်း နှင့် ကန်ထရိုက်တာမှ (၇၀)ရာခိုင်နှုန်း အချိုးဖြင့် ကျောက်မီးသွေးလုပ်ကိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာအတွင်း၌ အောက်ပါအတိုင်းခွဲဝေယူရမည်။

| ထုတ်ကုန်ပစ္စည်း | ဓာတ်သတ္တုခွန် | ကျန်ကျောက်မီးသွေး |
|---|---|---|
| ကျောက်မီးသွေး | ၃ % | ၉၇ % |
| (၁၀၀)တန် | ၃ တန် | ၉၇ တန် |

| ကျန်ကျောက်မီးသွေး | အမှတ်(၃)သတလ | ကန်ထရိုက်တာ |
|---|---|---|
| | ၃၀ % | ၇၀ % |
| ၉၇ တန် | ၂၉.၁ တန် | ၆၇.၉ တန် |

## အပိုင်း(၁၂)
## ထုတ်ကုန်ပစ္စည်းတန်ဖိုးသတ်မှတ်ခြင်း

၁၂-၁။ အမှတ်(၃)သတလ မှ အချိုးကျရရှိမည့် ကျောက်မီးသွေး နှင့် ဓာတ်သတ္တုခွန်အတွက် ရရှိသည့် ကျောက်မီးသွေးအားလုံးတို့၏ တွင်းဝတန်ဖိုးကိုမက်ထရစ်တစ်တန်လျှင် မြန်မာကျပ်ငွေ ကျပ်၁၅၀၀ (ကျပ် တစ်ထောင့်ငါးရာတိတိ)ကိုသတ်မှတ်သည်။

၁၂-၂။ အထက်အပိုင်း(၁၂-၁)တွင်ဖော်ပြထားသော ကျောက်မီးသွေးတန်ဖိုးသည် ထုတ်လုပ်မှုလုပ်ငန်းစတင်ချိန်မှ (၁)နှစ် အတွင်းမပြောင်းလဲဘဲ တသမက်တည်းရှိစေရန် နှင့် တစ်နှစ်လျှင် တစ်ကြိမ်ပြန်လည်ညှိနှိုင်းသတ်မှတ်ရမည်။

## အပိုင်း(၁၃)
## သယ်ယူရောင်းချခြင်း

၁၃-၁။ အပိုင်း(၁၁-၁)အရ ကန်ထရိုက်တာမှ အချိုးကျရရှိသော ကျောက်မီးသွေးများအား သယ်ယူရောင်းချခြင်းတို့ကို ပြည်တွင်း၌ လွတ်လပ်စွာဆောင်ရွက်နိုင်သည်။

(ဏ) တူးဖော်ထုတ်လုပ်သည့် လုပ်ငန်းကြောင့်ဒေသအတွင်းတည်ရှိနေသော လယ်ယာမြေ၊အိမ်၊ ခြံတို့နှင့်ပတ်သက်၍ ထိခိုက်မှုရှိလျှင် သက်ဆိုင်ရာအာဏာပိုင်များမှ သတ်မှတ်ပေးထားသော တန်ဘိုးကို လျော်ကြေးအဖြစ်ပေးချေရမည်။

၉-၂။ **အမှတ်(၃)သကလ၏တာဝန်များ**
အမှတ်(၃)သတလသည်အောက်ပါတို့ကိုတာဝန်ယူရမည်။

(က) ကျောက်မီးသွေးတူးဖော်ထုတ်လုပ်ရေးအတွက် လိုအပ်သည့် ယမ်းဘီလူးနှင့် ဆက်စပ်သုံးပစ္စည်းများဝယ်ယူရရှိရေး၊ သုံးစွဲနိုင်ရေးအတွက် ကူညီပေးရမည်။

(ခ) ကျောက်မီးသွေးတူးဖော်မှုလုပ်ငန်းတွင် ကန်ထရိုက်တာမှ လိုအပ်သော အကူအညီများကို ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ဂ) ကန်ထရိုက်တာမှ အမှတ်(၃)သတလ ထံမှ ကျွမ်းကျင်သူများ၏အကူအညီ တောင်းခံလာပါက ပံ့ပိုးဆောင်ရွက်ပေးရမည်။

## အပိုင်း(၁၀)
## ဓာတ်သတ္တုခွန်

၁၀-၁။ ဤသဘောတူစာချုပ်အရ လုပ်ကိုင်၍ထွက်ရှိလာမည့် ကျောက်မီးသွေးတန်ချိန်စုစုပေါင်း၏(၃)ရာခိုင်နှုန်းကို ကန်ထရိုက်တာမှ ဓာတ်သတ္တုခွန်အဖြစ် အပိုင်း(၁၂)ပါ တန်ဘိုးသတ်မှတ်ချက်အတိုင်းပေးဆောင်ရမည်။

၁၀-၂။ ဓာတ်သတ္တုခွန် (၃)ရာခိုင်နှုန်းကို သတ္တုတွင်းဝန်ကြီးဌာန၊သတ္တုတွင်းဦးစီးဌာနသို့ပေးဆောင်ရမည်။

ယ.E ၆၆ ချက
၂၈. ၅. ၈၃

## အပိုင်း(၁၁)
## ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားခြင်း

၁၁-၁။ တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော ကျောက်မီးသွေးစုစုပေါင်း၏(၃)ရာခိုင်နှုန်းကို နိုင်ငံတော်အတွက် ဓာတ်သတ္တုခွန်အဖြစ် ပေးဆောင်ပြီး ကျန်ကျောက်မီးသွေးများကို အမှတ်(၃)သတလမှ (၃၀)ရာခိုင်နှုန်း နှင့် ကန်ထရိုက်တာမှ (၇၀)ရာခိုင်နှုန်း အချိုးဖြင့် ကျောက်မီးသွေးလုပ်ကိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာအတွင်း၌ အောက်ပါအတိုင်းခွဲဝေယူရမည်။

| ထုတ်ကုန်ပစ္စည်း | ဓာတ်သတ္တုခွန် | ကျန်ကျောက်မီးသွေး |
|---|---|---|
| ကျောက်မီးသွေး | ၃ % | ၉၇ % |
| (၁၀၀)တန် | ၃ တန် | ၉၇ တန် |

| ကျန်ကျောက်မီးသွေး | အမှတ်(၃)သတလ | ကန်ထရိုက်တာ |
|---|---|---|
| | ၃၀ % | ၇၀ % |
| ၉၇ တန် | ၂၉.၁ တန် | ၆၇.၉ တန် |

## အပိုင်း(၁၂)
## ထုတ်ကုန်ပစ္စည်းတန်ဖိုးသတ်မှတ်ခြင်း

၁၂-၁။ အမှတ်(၃)သတလ မှ အချိုးကျရရှိမည့် ကျောက်မီးသွေး နှင့် ဓာတ်သတ္တုခွန်အတွက် ရရှိသည့် ကျောက်မီးသွေးအားလုံးတို့၏ တွင်းဝတန်ဖိုးကို တစ်တန်လျှင် မြန်မာကျပ်ငွေ ကျပ်၁၅၀၀ (ကျပ် တစ်ထောင့်ငါးရာတိတိ)ကိုသတ်မှတ်သည်။

၁၂-၂။ အထက်အပိုင်း(၁၂-၁)တွင်ဖော်ပြထားသော ကျောက်မီးသွေးတန်ဖိုးသည် ထုတ်လုပ်မှုလုပ်ငန်းစတင်ချိန်မှ (၁)နှစ် အတွင်းမပြောင်းလဲဘဲ တသမတ်တည်းရှိစေရန် နှင့် တစ်နှစ်လျှင် တစ်ကြိမ်ပြန်လည်ညှိနှိုင်းသတ်မှတ်ရမည်။

## အပိုင်း(၁၃)
## သယ်ယူရောင်းချခြင်း

၁၃-၁။ အပိုင်း(၁၁-၁)အရ ကန်ထရိုက်တာမှ အချိုးကျရရှိသော ကျောက်မီးသွေးများအား သယ်ယူခြင်း၊ ရောင်းချခြင်းတို့ကို ပြည်တွင်း၌ လွတ်လပ်စွာဆောင်ရွက်နိုင်သည်။

၁၃-၂။ အမှတ်(၃)သတလမှ အချိုးကျရရှိသော ကျောက်မီးသွေးအားလုံးအတွက် အထက်အပိုင်း(၁၂-၁) ပါ တန်ဖိုးသတ်မှတ်ချက်အတိုင်း ကန်တရိုက်တာသို့ရောင်းချနိုင်သည်။ ထိုသို့ရောင်းချသည့်အခါ ကန်ထရိုက်တာမှ ဝယ်ယူရန်သဘောတူပါသည်။

## အပိုင်း(၁၄)
## အခွန်အကောက်များ

၁၄-၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ အခါအားလျော်စွာ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန်အကောက်များကို ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၄-၂။ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ပြည်ပတွင် ပေးရန်ရှိသော အခွန်အကောက်များကို ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၄-၃။ အမှတ်(၃)သတလသည် ကန်ထရိုက်တာမှ ပေးဆောင်ရန်ရှိသည့် ဝင်ငွေခွန်နှင့် အခြားအခွန်အကောက်များကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါအတိုင်းသက်သာခွင့်ရရှိရေးကိုကူညီဆောင်ရွက်ပေးရမည်။

## အပိုင်း(၁၅)
## အာမခံထားရှိခြင်း

၁၅-၁။ ကန်ထရိုက်တာသည် မြန်မာ့အာမခံဥပဒေအရ လိုအပ်သော အာမခံများထားရှိရမည်။

## အပိုင်း(၁၆)
## ဆုငွေ

၁၆-၁။ ကန်ထရိုက်တာသည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့ရက်တွင် အမှတ်(၃)သတလသို့စာချုပ်လက်မှတ်ရေးထိုးမှု ဆုငွေအဖြစ် မြန်မာငွေကျပ် ၂၀၀,၀၀၀/-(ကျပ်နှစ်သိန်းတိတိ)ကိုပေးသွင်းရမည်။

## အပိုင်း(၁၇)
## ငွေပေးချေခြင်း

၁၇-၁။ ကန်ထရိုက်တာသည် စာချုပ်အရ အမှတ်(၃)သတလသို့ပေးရန်ရှိသော ငွေများကို အမှတ်(၃)သတလ မှသတ်မှတ်ပေးထားသော မြန်မာနိုင်ငံရှိ ဘဏ်တွင်ပေးသွင်းရမည်။ ကန်ထရိုက်တာသည်

စာချုပ်အရပေးရန်ရှိသောငွေများကို ပေးချေရန် ကျရောက်သည့်နေ့မှရက်ပေါင်း(၃၀)အတွင်းပေးချေရမည်။

## အပိုင်း(၁၈)
## လုပ်ငန်းသုံးစက်ပစ္စည်းကိရိယာများ

၁၈-၁။ ကန်ထရိုက်တာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း စာချုပ်အရ ဆောင်ရွက်မည့် တူးဖော်မှုလုပ်ငန်းအတွက် အသုံးပြုမည့်စက်၊စက်ပစ္စည်းများ၊ယာဉ်ယန္တရားများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောတူခွင့်ပြုချက်ရရှိမှသာ တင်သွင်းခွင့်ရှိသည်။

၁၈-၂။ အပိုင်း(၁၈-၁)အရ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တင်သွင်းလာသည့် စက်ပစ္စည်းကိရိယာများကို အမှတ်(၃)သတလ၏သဘောတူညီမှုမရဘဲ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရောင်းချခြင်းမပြုရ။ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ သို့မဟုတ် စာချုပ်အပိုင်း(၂၃)ရပ်စဲခြင်းအရ လုပ်ငန်းပြီးစီးသည့်အခါတို့အနက် စောရာအချိန်ကာလတွင် ပြန်လည်ထုတ်ယူရန် ကြိုတင်သတ်မှတ်ထားသည့်ပစ္စည်းများ(Draw Back Item)အားသတ်မှတ်ချက်နှင့်အညီ ပြန်လည်ထုတ်ယူသွားနိုင်သည်။

## အပိုင်း(၁၉)
## အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၉-၁။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီကတစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးကဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အနုညာတစီ ရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

စာချုပ်အရပေးရန်ရှိသောငွေများကို ပေးချေရန် ကျရောက်သည့်နေ့မှရက်ပေါင်း(၃၀)အတွင်းပေးချေရမည်။

## အပိုင်း(၁၈)
## လုပ်ငန်းသုံးစက်ပစ္စည်းကိရိယာများ

၁၈-၁။ ကန်ထရိုက်တာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း စာချုပ်အရ ဆောင်ရွက်မည့် ကူးဖော်မှုလုပ်ငန်းအတွက် အသုံးပြုမည့်စက်၊စက်ပစ္စည်းများ၊ယာဉ်ယန္တရားများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောတူခွင့်ပြုချက်ရရှိမှသာ တင်သွင်းခွင့်ရှိသည်။

၁၈-၂။ အပိုင်း(၁၈-၁)အရ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တင်သွင်းလာသည့် စက်ပစ္စည်းကိရိယာများကို အမှတ်(၃)သတလ၏သဘောတူညီမှုမရဘဲ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရောင်းချခြင်းမပြုရ။

## အပိုင်း(၁၉)
## အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၉-၁။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီကတစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးကဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အနုညာတစီ ရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## အပိုင်း(၂၀)
## စီမံခန့်ခွဲခြင်း

၂၀-၁။ **စီမံခန့်ခွဲရေးကော်မတီ**

(က) အမှတ်(၃)သတလနှင့်ကန်ထရိုက်တာတို့၏ ကိုယ်စားလှယ်များပါဝင်သောစီမံခန့်ခွဲရေးကော်မတီတစ်ခုဖွဲ့စည်း၍ ကျောက်မီးသွေးတူးဖော်ထုတ်လုပ်မှုနှင့်ပတ်သက်သော လုပ်ငန်းစဉ်များ၊ ဘဏ္ဍာရေးကိစ္စများ၊ စီမံခန့်ခွဲမှုကိစ္စများ၊ ကျောက်မီးသွေးရောင်းချမှုကိစ္စရပ်များအပါအဝင် ဤစာချုပ်ပါ လုပ်ငန်းအရပ်ရပ်ကိုစီမံခန့်ခွဲမှုကော်မတီ၏ အဆုံးအဖြတ်ဖြင့် ဆောင်ရွက်ရမည်။

(ခ) ဤကော်မတီတွင် အဖွဲ့ဝင်(၅)ဦးပါဝင်ပြီး အမှတ်(၃)သတလမှ (၃)ဦးနှင့်ကန်ထရိုက်တာမှ (၂)ဦးပါဝင်စေလျက် အမှတ်(၃)သတလ၏ ကော်မတီဝင်တစ်ဦးသည် ဥက္ကဋ္ဌဖြစ်စေရမည်။ ဥက္ကဋ္ဌမှ ကော်မတီ အတွင်းရေးမှူးတစ်ဦးကိုခန့်ထားရမည်။

(ဂ) ကော်မတီသည် ရန်ကုန်မြို့၊သို့မဟုတ် နှစ်ဖက်သဘောတူညီချက်ရရှိထားသော အခြားသင့်လျော်ရာနေရာတွင် (၃)လတစ်ကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးရမည်။ လိုအပ်ပါကဥက္ကဋ္ဌသည် အချိန်မရွေး ဤကော်မတီ၏ အစည်းအဝေးကိုခေါ်ယူနိုင်သည်။

(ဃ) ကော်မတီဝင်များအတွက်အခကြေးငွေများ(သို့မဟုတ်)အခြားစရိတ်များကိုစီမံခန့်ခွဲရေးကော်မတီ၏အဆုံးအဖြတ်ဖြင့်သာသတ်မှတ်ဆောင်ရွက်ရမည်။ ယင်းအခကြေးငွေကိုကန်ထရိုက်တာမှ ကျခံရမည်။

၂၀-၂။ **လုပ်ငန်းစီမံခန့်ခွဲခြင်း**

(က) ကန်ထရိုက်တာသည် မန်နေဂျာတစ်ဦးကိုနေ့စဉ်လုပ်ငန်းရပ်များ ကြီးကြပ်ကွပ်ကဲဆောင်ရွက်နိုင်ရန်အတွက် ခန့်ထားရမည်။ မန်နေဂျာသည်စီမံခန့်ခွဲရေးကော်မတီမှသတ်မှတ်ပေးသောစည်းမျဉ်းဘောင်အတွင်းမှ လုပ်ငန်းအစီအစဉ်များကို အပြည့်အဝတာဝန်ယူ၍ကြီးကြပ်ကွပ်ကဲဆောင်ရွက်ရမည်။

(ခ) ကန်ထရိုက်တာသည် အောက်ပါတာဝန်နှင့်လုပ်ပိုင်ခွင့်များကို မန်နေဂျာအားကြီးကြပ်လမ်းညွှန်ပေး၍ လုပ်ကိုင်ဆောင်ရွက်စေရမည်-

(၁) နှစ်စဉ်ငွေကြေးအသုံးစရိတ် ခန့်မှန်းခြေများ ပြုစုရေးဆွဲခြင်းနှင့်လုပ်ငန်းစဉ်များအရ

ပြန်လည်ပြုပြင်ထားသည့် အသုံးစရိတ်ခန့်မှန်းခြေများပြုစုရေးဆွဲခြင်း။

(၂) လုပ်ငန်းအဝဝနှင့်သက်ဆိုင်သော သုံးလပတ်အစီရင်ခံစာ၊ နှစ်ချုပ်အစီရင်ခံစာများ ရေးဆွဲခြင်း။

(၃) လုပ်ငန်းအတွက် လိုအပ်သော ဝန်ထမ်းနှင့်လုပ်သားများ အမှတ်(၃)သတလ၏ သဘောတူညီမှုဖြင့် ဖြည့်စွက်ခန့်ထားခြင်း။

## အပိုင်း(၂၁)
## လုပ်ငန်းကြီးကြပ်ဆောင်ရွက်ခြင်း

၂၁-၁။ ကန်ထရိုက်တာသည်လုပ်ငန်းကာလအတွင်း အမှတ်(၃)သတလမှ ကိုယ်စားလှယ်(၂)ဦးထား ရှိရန် သဘောတူသည်။ ယင်းကိုယ်စားလှယ်များအတွက် နေထိုင်သွားလာရေး၊စားသောက်ရေးနှင့် စီမံခန့်ခွဲမှုကော်မတီမှ သတ်မှတ်ပေးထားသော လစဉ်ထောက်ပံ့ကြေးငွေများကို ကန်ထရိုက်တာ မှ စီမံဆောင်ရွက်ပေးရမည်။

၂၁-၂။ အမှတ်(၃)သတလ ကိုယ်စားလှယ်များအား ဤစာချုပ်ပါ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်အနီး၌ ရှုံးစိုက်စေပြီးထုထောင်မှုလုပ်ငန်းများ၊ ထုတ်လုပ်ရေးလုပ်ငန်းများကို စာချုပ်ပါအတိုင်း ဆောင် ရွက်ရန်အတွက် ကြီးကြပ်ဆောင်ရွက်စေရမည်။

၂၁-၃။ အမှတ်(၃)သတလနှင့်သတ္တုတွင်းဝန်ကြီးဌာနမှ တာဝန်ပေးအပ်ထားသည့်ပုဂ္ဂိုလ်များသည် လို အပ်ပါက သင့်လျော်သည့်အချိန်တွင် စာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော ဧရိယာအတွင်းလုပ်ငန်းများ ဝင်ရောက်စစ်ဆေးခွင့်ရှိသည်။ ကန်ထရိုက်တာသည် အထက်ဖော်ပြပါပုဂ္ဂိုလ်များမှ ကန်ထရိုက်တာ ၏လုပ်ငန်းများနှင့်ပတ်သက်သော အတတ်ပညာပိုင်းဆိုင်ရာနှင့် ထုတ်လုပ်မှုလုပ်ငန်းဆိုင်ရာ အချက်အလက်များတောင်းခံလာပါက ဆောလျင်စွာကူညီပံ့ပိုးပေးရမည်။ ကိုယ်စားလှယ်များသည် ပုံမှန်လုပ်ငန်းဆောင်ရွက်နေမှုများကို ဝင်ရောက်စွက်ဖက်မှုမျိုးမဖြစ်စေရ။

## အပိုင်း(၂၂)
## ဘဏ်အာမခံငွေ

၂၂-၁။ ကန်ထရိုက်တာသည် ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်(၃၀)အတွင်း ဘဏ်အာမခံ ငွေအဖြစ် မြန်မာငွေ ကျပ် ၅၀၀,၀၀၀/-(ကျပ်ငါးသိန်းတိတိ)ကို ကန်ထရိုက်တာ၏ငွေအပ်နှံ ထားသောဘဏ်တွင်ထားရှိရမည်။ ဘဏ်အာမခံကို စာချုပ်သက်တမ်းတိုးမြှင့်သည့်ကာလအထိ

ပြန်လည်ပြုပြင်ထားသည့် အသုံးစရိတ်ခန့်မှန်းခြေများပြုစုရေးဆွဲခြင်း။

(၂) လုပ်ငန်းအဝဝနှင့်သက်ဆိုင်သော သုံးလပတ်အစီရင်ခံစာ၊ နှစ်ချုပ်အစီရင်ခံစာများ ရေးဆွဲခြင်း။

(၃) လုပ်ငန်းအတွက် လိုအပ်သော ဝန်ထမ်းနှင့်လုပ်သားများ အမှတ်(၃)သတလ၏ သဘောတူညီမှုဖြင့် ဖြည့်စွက်ခန့်ထားခြင်း။

## အပိုင်း(၂၁)
## လုပ်ငန်းကြီးကြပ်ဆောင်ရွက်ခြင်း

၂၁-၁။ ကန်ထရိုက်တာသည်လုပ်ငန်းကာလအတွင်း အမှတ်(၃)သတလမှ ကိုယ်စားလှယ်(၂)ဦးထား ရှိရန် သဘောတူသည်။ ယင်းကိုယ်စားလှယ်များအတွက် နေထိုင်သွားလာရေး၊စားသောက်ရေးနှင့် စီမံခန့်ခွဲမှုကော်မတီမှ သတ်မှတ်ပေးထားသော လစဉ်ထောက်ပံ့ကြေးငွေများကို ကန်ထရိုက်တာ မှ စီမံဆောင်ရွက်ပေးရမည်။

၂၁-၂။ အမှတ်(၃)သတလ ကိုယ်စားလှယ်များအား ဤစာချုပ်ပါ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်အနီး၌ ရုံးစိုက်စေပြီးထူထောင်မှုလုပ်ငန်းများ၊ ထုတ်လုပ်ရေးလုပ်ငန်းများကို စာချုပ်ပါအတိုင်း ဆောင်ရွက်ရန်အတွက် ကြီးကြပ်ဆောင်ရွက်စေရမည်။

၂၁-၃။ အမှတ်(၃)သတလနှင့်သတ္တုတွင်းဝန်ကြီးဌာနမှ တာဝန်ပေးအပ်ထားသည့်ပုဂ္ဂိုလ်များသည် လိုအပ်ပါက သင့်လျော်သည့်အချိန်တွင် စာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော ဧရိယာအတွင်းလုပ်ငန်းများ ဝင်ရောက်စစ်ဆေးခွင့်ရှိသည်။ ကန်ထရိုက်တာသည် အထက်ဖော်ပြပါပုဂ္ဂိုလ်များမှ ကန်ထရိုက်တာ၏လုပ်ငန်းများနှင့်ပတ်သက်သော အတတ်ပညာပိုင်းဆိုင်ရာနှင့် ထုတ်လုပ်မှုလုပ်ငန်းဆိုင်ရာ အချက်အလက်များတောင်းခံလာပါက ဆောလျင်စွာကူညီပံ့ပိုးပေးရမည်။ ကိုယ်စားလှယ်များသည် ပုံမှန်လုပ်ငန်းဆောင်ရွက်နေမှုများကို ဝင်ရောက်စွက်ဖက်မှုမျိုးမဖြစ်စေရ။

## အပိုင်း(၂၂)
## ဘဏ်အာမခံငွေ

၂၂-၁။ ကန်ထရိုက်တာသည် ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်(၃၀)အတွင်း ဘဏ်အာမခံငွေအဖြစ် မြန်မာငွေ ကျပ် ၅၀၀,၀၀၀/-(ကျပ်ငါးသိန်းတိတိ)ကို နိုင်ငံတော်အစိုးရပိုင် မြန်မာ့စီးပွါးရေးဘဏ်တစ်ခုခုတွင်ထားရှိရမည်။ ဘဏ်အာမခံကို စာချုပ်သက်တမ်းဝိုးမြင့်သည့်ကာလအထိ

သို့မဟုတ် ကန်ထရိုက်တာမှ စာချုပ်ပါ တာဝန်ဝတ္တရားများအားလုံး ဆောင်ရွက်ပြီးစီးသည့်အထိ စာချုပ်သက်တမ်းတစ်လျှောက်ထားရှိရမည်။ ဤစာချုပ်ပါသဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက်ခဲ့လျှင် အပိုင်း(၂၃)ပါအတိုင်း စာချုပ်ကိုရပ်စဲ၍ အမှတ်(၃) သတလ မှ ဘဏ်အာမခံငွေကို သိမ်းယူနိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ ကန်ထရိုက်တာ၏အပြစ်ကြောင့် မဟုတ်ဘဲ၊တစ်စုံတစ်ရာသော အကြောင်းကြောင့် နှစ်ဖက်သဘောတူစာချုပ်ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ အမှတ်(၃)သတလသည် ကန်ထရိုက်တာမှပေးရန် ကျန်ရှိသော ကြွေးမြီများကို နုတ်ယူ၍ ကျန်သောဘဏ်အာမခံငွေကို ကန်ထရိုက်တာသို့ပြန်ပေးရမည်။ ဘဏ်အာမခံပုံစံမှာ **နောက်ဆက်တွဲ(ခ)**ပါအတိုင်းဖြစ်သည်။

## အပိုင်း(၂၃)
## ရပ်စဲခြင်း

၂၃-၁။ ဤစာချုပ်ကိုအောက်ဖော်ပြပါအချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက မည်သည့်ဘက်ကမဆို ရက်ပေါင်း(၉၀) ကြိုတင်သတိပေးပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် စာချုပ်ရပ်စဲနိုင်သည်-

(က) ကျောက်မီးသွေး တူးဖော်ထုတ်လုပ်မှုလုပ်ငန်းသည် စဉ်ဆက်မပြတ်အရှုံးပေါ်ပေါက်နေခြင်း။

(ခ) တစ်ဖက်ဖက်မှ စာချုပ်ပါစည်းကမ်းချက်များအား ဖောက်ဖျက်ခြင်း။

(ဂ) မမျှော်မှန်းနိုင်သော ဖြစ်ရပ်တစ်ခုသည် တစ်နှစ်ထက်ကျော်လွန်၍ဖြစ်ပွားနေခြင်း။

(ဃ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၂၃-၂။ ဤစာချုပ်၌ တစ်စုံတစ်ရာပါဝင်မှုမရှိစေကာမူ နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီးစာဖြင့် ရေးသားထားသော သဘောတူညီချက်ရယူ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် စာချုပ်ကို ရပ်စဲနိုင်သည်။

၂၃-၃။ စာချုပ်ကိုရပ်စဲခြင်းအားဖြင့်စာချုပ်ပါရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊လုပ်ပိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန် အချက်အလက်များအားလုံး လုံးဝပြီးပြတ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။ သို့ရာတွင် ကန်ထရိုက်တာသည် ပေးရန်တာဝန်များအတွက်ဆက်လက်တာဝန်ရှိစေရမည်။

## အပိုင်း(၂၄)
## လျှို့ဝှက်ထိန်းသိမ်းခြင်း

၂၄-၁။ ကန်ထရိုက်တာသည် ဤစာချုပ်ပါအချက်အလက်များ၊စာချုပ်ပါတာဝန်များ၊လုပ်ငန်းအစီအစဉ်များနှင့် အခြားသက်ဆိုင်သောသတင်းအချက်အလက်များကို ဥပဒေအရ ခွင့်ပြုထားသည့်ကိစ္စမှအပ လျှို့ဝှက်အဆင့်တွင် ထားရမည်။

## အပိုင်း(၂၅)
## မှတ်တမ်းများ၊ ငွေစာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

၂၅-၁။ ကန်ထရိုက်တာသည် ဤစာချုပ်ပါလုပ်ငန်းနှင့်ပတ်သက်သည့် မှတ်တမ်းများ၊ ငွေစာရင်းများစသည်တို့ကို အများလက်ခံကျင့်သုံးသောစာရင်းဇယားထားသိုနည်းများအရ စာရင်းထိမ်းသိမ်းထားရှိရန် တာဝန်ရှိသည်။ စာရင်းဇယားများကို မြန်မာဘာသာဖြင့် ထားရမည်။

၂၅-၂။ ဤစာချုပ်အရ အမှတ်(၃)သတလ သည် ထုတ်လုပ်မှုနှင့် သိုလှောင်မှုမှတ်တမ်းများနှင့် ပတ်သက်၍ စစ်ဆေးခွင့်ရှိသည်။

၂၅-၃။ အမှတ်(၃)သတလသည် လိုအပ်ပါက ပြင်ပမှ စာရင်းစစ်တစ်ဦးကို စစ်ဆေးရန် ခန့်ထားနိုင်သည်။

## အပိုင်း(၂၆)
## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၂၆-၁။ ဤစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များ ပျက်ကွက်ခြင်း(သို့မဟုတ်)နှောင့်နှေးကြန့်ကြာမှုများဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့်အညီဖြစ်ပါက နှစ်ဦးနှစ်ဖက်က ကင်းလွတ်ခွင့်ပြုရမည်။ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်ဖက်မှ မိမိလိုက်နာဆောင်ရွက်ရမည့် တာဝန် တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ၊ခေတ္တဆိုင်းငံ့ရမည် အခြေအနေပေါ်ပေါက်လာလျှင် ထိုသို့ဆိုင်းငံ့ထားရမည့်ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့်ကာလတို့ကို ဖော်ပြလျှက် ထိုဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှတစ်ဆယ့်လေးရက်အတွင်း နစ်နာသူ အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြားရမည်။ ဤသို့အကြောင်းကြားခြင်းကို အခြားတစ်ဘက်မှ အတည်ပြုလက်ခံမှသာလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ထိုနစ်နာသောအချိန်ကာလအတွက် တာဝန်ဝတ္တရားများရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကို အမြန်ဆုံးကျော်လွှားနိုင်အောင်ဆောင်ရွက်ရမည်။

၂၆-၂။ အပိုင်း(၂၆-၁)ပါအတိုင်း မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်မှုကို တစ်ဖက်မှ အသိပေးပြီး နှစ်ဦးနှစ်ဖက် အတည်ပြုလက်ခံထားသောဖြစ်ရပ်မှ ပေါ်ပေါက်လာသည့်ကြန့်ကြာမှု၊ ဆုံးရှုံးမှုများ အတွက် မည်သည့်ဖက်တွင်မှ တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘောဝ ဘေးအန္တရာယ်ကျရောက်မှု၊ ရေကြောင်းဘေးအန္တရာယ်ကျရောက်မှု၊သပိတ်မှောက်ခြင်း၊ အလုပ်သ မားများ၏နှောင့်ယှက်မှုများ၊ စစ်ဖြစ်ပွားခြင်း၊ ပိတ်ဆို့မှု၊ ဆူပူမှု၊ ကူးစက်တတ်သောရောဂါဖြစ် ပွားမှု၊မြေပြိုခြင်း၊ လျှောင်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်း၊ရေကြီးခြင်း၊ ရေလွှမ်းမိုးခြင်း၊ ပေါက်ကွဲခြင်းများနှင့် အခြားအလားတူ ထိန်းချုပ်၍မရနိုင်သော ဖြစ်ရပ်များ(သို့)မည်သည့်ဘက် ကမျှ ကြိုးစားအားထုတ်မှုဖြင့်တားဆီးမရနိုင်သော ဖြစ်ရပ်များပါဝင်သည်။

## အပိုင်း(၂၇)
## အခြားဓာတ်သတ္တုပစ္စည်းများတွေ့ရှိခြင်း

၂၇-၁။ ဤစာချုပ်အရ ကျောက်မီးသွေးတူးဖော်ထုတ်လုပ်နေစဉ် ကျောက်မီးသွေးမှအပ အခြားသော ဓာတ်သတ္တုပစ္စည်းများ၊ ကျောက်မျက်ရတနာများ ၊ရှေးဟောင်းပစ္စည်းများတစ်ခုခုကို မိမိလုပ်ကွက် အတွင်း၌ တူးဖော်တွေ့ရှိပါက ထိုသို့တွေ့ရှိကြောင်း ကန်ထရိုက်တာက အမှတ်(၃)သတလ သို့ ချက်ချင်းအကြောင်းကြားရမည်။ တူးဖော်တွေ့ရှိသော ကျောက်မီးသွေးမှအပ အခြားဓာတ်သတ္တု ပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများသည် နိုင်ငံတော်ပိုင်ဖြစ်ပြီးကန်ထ ရိုက်တာနှင့် လုံးဝမသက်ဆိုင်စေရ။

၂၇-၂။ အကယ်၍ ကန်ထရိုက်တာသည် ကျောက်မီးသွေးတူးဖော်ရန် လုပ်ပိုင်ခွင့်ရှိသောဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်နေစဉ်အခြားဓာတ်သတ္တုတွေ့ရှိရ၍ ၎င်းဓာတ်သတ္တုကိုလည်း တူးဖော်လုပ်ကိုင် လိုပါက ဆက်လက်လုပ်ဆောင်လိုသည်များကို ကန်ထရိုက်တာနှင့် အမှတ်(၃)သတလတို့ညှိ နှိုင်း၍ သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့်သာ ဆက်လက်ဆောင်ရွက်ရမည်။

## အပိုင်း(၂၈)
## အထွေထွေ

၂၈-၁။ ဤစာချုပ်သည်သာလျှင် နှစ်ဦးနှစ်ဖက် အတည်ပြုထားသော သဘောတူညီချက်ဖြစ်သည်။ဤ ကိစ္စနှင့်ပတ်သက်၍ ယခင်က နှုတ်ဖြင့်သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း သဘောတူ ညီချက်ရှိခဲ့လျှင် ထိုသဘောတူညီချက်များကို ဆက်လက်၍ အကျိုးသက်ရောက်မှုမရှိစေရ။

ၛ

၂၈-၂။ ဤစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့်အခြားဆက်သွယ်မှုများကို စာတိုက်၊စကားပြော ကြေးနန်း၊တဲလက်စ်၊ဖက်ဇီမိုင်း၊ကြိုးမဲ့ကြေးနန်း၊ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေကြိုတင် ပေးချေ၍ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ရာတွင် အောက်ဖော်ပြပါ လိပ်စာများအတိုင်း ဆက်သွယ် ဆောင်ရွက်ရမည်။

| အမှတ်(၃)သတလ | ကန်ထရိုက်တာ |
|---|---|
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| အမှတ်(၃)သတ္တုတွင်းလုပ်ငန်း | ယူအီးအိပ်(စ်)ပို့အင်ပို့ကုမ္ပဏီလီမိတက် |
| အမှတ်(၉၀)၊ကံဘဲ့လမ်း | အမှတ်(၁၃၁)၊(၂၄)လမ်း၊လသာမြို့နယ်၊ |
| ရန်ကင်းစာတိုက်၊ရန်ကုန်မြို့။ | ရန်ကုန်မြို့။ |
| ဖုန်း-၉၅-၁-၅၇၇၄၄၄ | ဖုန်း-၉၅-၁-၂၈၇၁၉၉၊၂၈၇၅၃၇ |

၂၈-၃။ တစ်ဖက်မှတစ်ဖက်သို့ ဆက်သွယ်သောစာများကို လက်ခံရရှိကြောင်းပြန်ကြားရပါမည်။

စာချုပ်အားလွှဲပြောင်းခြင်း

၂၈-၄။ ကန်ထရိုက်တာသည် အမှတ်(၃)သတလ နှင့် သတ္တုတွင်းဝန်ကြီးဌာန၏ကြိုတင်သဘောတူခွင့်ပြု ချက်မရဘဲ ဤစာချုပ်ပါတာဝန်ဝတ္တရားအားလုံးအား အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများသို့ လွှဲပြောင်း ခြင်း၊ သို့မဟုတ် လုပ်ငန်းတစ်စိတ်တစ်ဒေသကို အပ်နှံဆောင်ရွက်ခြင်းတို့ကိုမပြုလုပ်ရ။

စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း

၂၈-၅။ ဤစာချုပ်အားနှစ်ဘက်စာဖြင့် သဘောတူညီမှုမပါဘဲ ပြင်ဆင်ခြင်း၊ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ ဤသဘောတူစာချုပ်အားပြင်ဆင်ခြင်း၊ဖြည့်စွက်ခြင်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော် မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

စာချုပ်အားပြန်လည်သုံးသပ်ခြင်း

၂၈-၆။ စာချုပ်သက်တမ်းအတွင်း၌ကန်ထရိုက်တာနှင့် အမှတ်(၃)သတလတို့ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ဤစာချုပ်ကိုပြင် ဆင်နိုင်သည်။ သို့သော်စာချုပ်၏မူလရည်ရွယ်ချက်အား ပျက်ပြယ်သွားခြင်းမရှိစေရ။

နောက်ဆက်တွဲများ

၂၈-၇။ ဤစာချုပ်ပါ နောက်ဆက်တွဲများသည် စာချုပ်၏အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

## အပိုင်း(၂၉)
## အကျိုးသက်ရောက်မှု

၂၉-၁။ ဤစာချုပ်သည် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။

## အပိုင်း(၃၀)
## အစစ်အမှန်ဖြစ်ခြင်း

၃၀-၁။ ဤစာချုပ်အား မြန်မာဘာသာဖြင့်ရေးသားပြီး မူရင်း(၂)အုပ်သာရှိ၍ တစ်ဖက်စီ၌တစ်အုပ်စီ ရှိရမည်။ ဤသဘောတူစာချုပ်အား စာချုပ်၏အစဦးပိုင်းတွင်ဖော်ပြထားသော ရက်၊လ၊ခုနှစ်တို့တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးကြပါသည်။

| <u>အမှတ်(၃)သတ္တုတွင်းလုပ်ငန်း(ကိုယ်စား)</u> | | <u>ကန်ထရိုက်တာ(ကိုယ်စား)</u> | |
|---|---|---|---|
| လက်မှတ် | ________ | လက်မှတ် | ________ |
| အမည် | **ဦးဆန်းထွန်း** | အမည် | **ဦးမြေနိုင်** |
| ရာထူး | ဦးဆောင်ညွှန်ကြားရေးမှူး | ရာထူး | အုပ်ချုပ်မှုဒါရိုက်တာ |
| ဌာန | အမှတ်(၃)သတ္တုတွင်းလုပ်ငန်း | ဌာန | ယူအီးအိပ်(စ်)ပို့အင်ပို့ ကုမ္ပဏီလီမိတက် |

ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

<u>အသိသက်သေများ</u>

| | | | |
|---|---|---|---|
| အမည် | ________ | အမည် | ________ |
| ရာထူး | ________ | ရာထူး | ________ |
| မှတ်ပုံတင်အမှတ် | ________ | မှတ်ပုံတင်အမှတ် | ________ |
| ဌာန/နေရပ်လိပ်စာ | ________ | ဌာန/နေရပ်လိပ်စာ | ________ |
| | ________ | | ________ |

နောက်ဆက်တွဲ(က)

# ခွင့်ပြုလုပ်ကွက်ပါ နယ်နိမိတ်မြေပုံနှင့် ရှင်းလင်းဖော်ပြချက်

ဤစာချုပ်အပိုင်း(၄)အရ ကန်ထရိုက်တာအား လုပ်ပိုင်ခွင့်ပြုသည့်လုပ်ကွက်သည် အောက်တွင် ဖော်ပြထားသည့် ရှင်းလင်းချက်နှင့်မြေပုံအတိုင်းဖြစ်ပါသည်။

| | | | | |
|---|---|---|---|---|
| တည်နေရာ | – | ပြည်ထောင်စုမြန်မာနိုင်ငံတော်<br>ရှမ်းပြည်မြောက်ပိုင်း၊သီပေါမြို့နယ်၊မခေါ်ဒေသ | | |
| မြေပုံအညွှန်း | – | ၁ –လက်မ (၁)မိုင်စကေး – မြေပုံ – ၉၃ အက်ဖ်/၁၀ | | |
| အကျယ်အဝန်း | – | ခွင့်ပြုဧရိယာစုစုပေါင်းဧက(၁၈၃၁)ခန့်ကို အောက်ပါနယ်နိမိတ်များဖြင့် သတ်မှတ်ပိုင်းခြားထားသည်။ | | |
| အနောက်မြောက်ဘက် | – | မြေပုံညွှန်းအမှတ် | 194670 | Point A |
| အရှေ့မြောက်ဘက် | – | မြေပုံညွှန်းအမှတ် | 194700 | Point B |
| အရှေ့တောင်ဘက် | – | မြေပုံညွှန်းအမှတ် | 170700 | Point C |
| အနောက်တောင်ဘက် | – | မြေပုံညွှန်းအမှတ် | 170670 | Point D |

နောက်ဆက်တွဲ (ခ)

**MYANMA ECONOMIC BANK**
**BRANCH (5)**
**YANGON**

TO

Managing Director
No(3) Mining Enterprise
Ministry of Mine , Yangon .

Date:..........................................

Dear Sir ,

Our Letter Guarantee No...........................................................................................
Dated.........................................................................................................................

Subject : : Performance Bank Guarantee .

This Performance Bank Guarantee shall constitute an irrevocable guarantee for the performance by .............................................and any affiliate thereof its obligations under the agreement for........................................................................................................ executed between the No.(3) Mining Enterprise and .................................................. herein after referred to as the " Contractor " . In accordance with the aforesaid , we Myanma Economic Bank hereby guarantee to you of the true and faithful performance of the aforesaid Agreement by the Company and we irrevocably undertake to pay to you without delay on your frst written demand any amount claimed by you to the exlent of Ks........................................................(Kyats...................................................................only).

This is the agreed sum for the Performance Bank guarantee for the aforesaid agreement against restitution of the original of this Performance Bank Guaraantee accompanied by your written declaration with detailed reasons that Company and any affliate thereof has failed to execute and perform any of the terms and conditions of the aforesaid Agreement.

Our Guarantee will remain valid irrevocably up to and shall be released by you after the end of the production period as mentioned in the Agreement from the effective date of the agreement by which date our guarantee become null and void and is to be returned to us.

Irrespective of its return however , we shall consider ourselves completely discharged from any liability under this guarantee after this expiry date.

Your faithfully .

Asst . Manager Manager

c:/lupe/mmb M(3)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ............၂၆၁............ / ၁၉၉၃ -၁၉၉၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ယူအီး အိပ်(စ်)ပို့ အင်ပို့ ကုမ္ပဏီ လီမိတက်

.................................................. အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၃ ခုနှစ်၊ ............ဇူလိုင်............လ ......၆ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။



( သိင်္ဂီ တင် )

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

* * *

**THE GOVERNMENT OF THE UNION OF MYANMAR**
**MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT**

# CERTIFICATE OF INCORPORATION

No. ............261............ of 19 93 -19 94

*I hereby certify that* U E EXPORT IMPORT COMPANY LIMITED ............ *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* ............SIXTH............ *day of* ...JULY............ *one thousand nine hundred and* ......NINETY THREE......

The new name has been changed from the old one " U E COMPANY LIMITED "vide letter No.Nya-2/1/NaWaTa/1484 of the Ministry of National Planning and Economic Development dated 16-9-93.

( THEINGI TIN )
**Registrar of Joint Stock Companies**
**Companies Registration Office**



# ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
## ကုန်သွယ်ရေးဝန်ကြီးဌာန
## ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

**ထုတ်ကုန်လုပ်ငန်းလုပ်ကိုင်သူ မှတ်ပုံတင်လက်မှတ်**
**သွင်းကုန်**

ကြီးကြပ်အမှတ် ... ဟသက / ၀၀၄၁

ထုတ်ပေးသည့်ရက်စွဲ ... ၈-၇-၉၃

၁။ ... ရန်ကုန် ... ပြည်နယ်/တိုင်း ... လသ၁ ... မြို့/မြို့နယ်အတွင်းရှိ

* ~~ယူအီး ကုမ္ပဏီလီမိတက်~~ ယူအီးအိပ်(စ်)ပို့အင်ပို့ကုမ္ပဏီလီမိတက်

~~[illegible]~~ ( U E EXPORT IMPORT CO,LTD) ... အား

သတ်မှတ်ထားသည့် ကုန်ပစ္စည်းများကို ထုတ်ကုန်လုပ်ငန်းလုပ်ကိုင်သူအဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။
သွင်းကုန်

(က) လုပ်ငန်းအမျိုးအစား ... လီမိတက်ကုမ္ပဏီ

(ခ) လုပ်ငန်းမှတ်ပုံတင်အမှတ် ... ၂၆၁/၁၉၉၃-၉၄

(ဂ) လုပ်ငန်းဌာနလိပ်စာ ... အမှတ်(၁၃၁)၊ (၂၄)လမ်း၊ (ဂ)ရပ်ကွက်၊
လသ၁မြို့နယ်၊ ရန်ကုန်တိုင်း

တယ်လီဖုန်းနံပါတ် ... တဲလက်နံပါတ် ...

(ဃ) ခွင့်ပြုသည့် ကုန်ပစ္စည်းအမျိုးအမည် ... ဥပဒေအရ တားမြစ်ထားသော ကုန်ပစ္စည်းများမှအပ
နှင့်သီးသန့် သွင်းကုန်အားလုံး

(င) ခွင့်ပြုသည့် ကာလ ... ၈-၇-၉၃မှ ၇-၇-၉၆ထိ (သုံး) နှစ်

မှတ်ချက်။ ထုတ်ကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။
သွင်းကုန်

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
ဒေါ်ဝင်း-လက်ထောက်ညွှန်ကြားရေးမှူး

၂။ ထုတ်ကုန်လုပ်ငန်းလုပ်ကိုင်ခွင့်အတွက် အောက်ဖော်ပြပါကာလအတိုင်း သက်တမ်းတိုးမြှင့်ပေးလိုက်သည်။
သွင်းကုန်

| သက်တမ်းတိုးမြှင့်သည့်ကာလ | ခွင့်ပြုသူလက်မှတ် နှင့် အမည် |
|---|---|
| (၁) ၈-၇-၉၆ နေ့မှ ၇-၇-၉၉ နေ့ထိ | ဒေါ်ခင်ဝင်း လက်ထောက်ညွှန်ကြားရေးမှူး |
| (၂) ၈-၇-၉၉ နေ့မှ ၇-၇-၂၀၀၂ နေ့ထိ | Aye Nu ဒေါ်အေးနု-လက်ထောက်ညွှန်ကြားရေးမှူး |
| (၃) ၈-၇-၂၀၀၂ နေ့မှ ၇-၇-၂၀၀၅ နေ့ထိ | Aye Nu ဒေါ်အေးနု-လက်ထောက်ညွှန်ကြားရေးမှူး |

* လုပ်ငန်းအမည် ပြောင်းလဲခွင့်ပြုသည်။
(၁၂-၁၀-၉၃)



# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 8th of FEB 2002

on the of 200 of the * UE EXPORT IMPORT CO.,LTD.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 26000 SHARES

" " " " .....

Nominal amount of the shares so allotted ..... 260,000,000/-Ks

" " " " .....

Amount paid or due and payable on each such share ..... 10,000/-KS

" " " " .....

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .....

Amount to be treated as paid on each such share .....

The consideration for which such share have been allotted is as follows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

**Presented for filing by :** MANAGING DIRECTOR

**Names, Address and Description of Allotees**

| Names & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U SOE MYINT 13/NAKHANA(EI)000138 | NO.247,KYAIKKASAN ROAD,TAMWE TSP, YANGON,MYANMAR. | CHAIRMAN | MERCHANT | 9000 |
| 2.U HTAY NAING 13/NAKHANA(EI)000130 | NO.156/160,36th STREET,KYAUKTADA TSP,YANGON,MYANMAR. | MANAGING DIRECTOR | MERCHANT | 7640 |
| 3.U ZAW WIN 13/NAKHANA(EI)000134 | NO.93,51st STREET, BOTATAUNG TSP, YANGON,MYANMAR. | - | MERCHANT | 260 |
| 4.U TUN YEE(a) YIN SHOUNG HOCK | NO.41,NAWADAY STREET,YANGON MYANMAR. | DIRECTOR | MERCHANT | 2600 |
| 5.OLYMPIC CO.,LTD. (REPRESENTED BY) U YEE YONG CHINT 13/KAMANA(NAING) 023410 | NO.584,STRAND ROAD LANMADAW TSP,YANGON NO.56,CHERRY STREET (6)QUARTER,KYAUKME TSP,NORTHERN SHAN STATE. | DIRECTOR | MERCHANT | 2600 |
| 6.HAN PHONE INVESTMENT LIMITED. (REPRESENTED BY) U WIN SHEIN 13/TAKANA(NAING) 129640 | NO.584,STRAND ROAD LANMADAW TSP, YANGON. | | MERCHANT | 2600 |
| 7.U YAN KYAR SIKE 13/TAYANA(NAING) 015052 | NO.(4)QUARTER, TANTYAN TSP, NORTHERN SHANSTATE | DIRECTOR | MERCHANT | 650 |
| 8.U MAUNG SAING 9/MAMANA (NAING) 020094 | NO.399,CORNER OF 83rd &34th STREET, CHANAYETHARZAN TSP MANDALAY DIVISION. | - | MERCHANT | 325 |
| 9.U HAUNG SIN SHI (a) U HONG SHIN SHI | NO.478,81st STREET BETWEEN 34 & 35th STREET,CHANAYETHAR--ZAN TOWNSHIP, MANDALAY DIVISION. | - | MERCHANT | 325 |
| | | | | 26,000 |

**Signature**

**U HTAY NAING**
**Managing Director**
**UE EXPORT IMPORT CO., LTD.**

**Date**



FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : UE EXPORT IMPORT CO.,LTD. Presented by : MANAGING DIRECTOR

| | The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U SOE MYINT | MYANMAR 13/NAKHANA(EI) 000138 | NO.247,KYAIKKASAN ROAD,TAMWE TOWNSHIP, YANGON. | MERCHANT | DIRECTOR ( CHAIRMAN) |
| 2. | U HTAY NAING | MYANMAR 13/NAKHANA(EI) 000130 | NO.156/160,36th STREET,KYAUKTADA TOWNSHIP YANGON. | MERCHANT | APPOINTED AS MANAGING DIRECTOR W.E.F (8 - 2 - 2002) |
| 3. | U TUN YE(a)YIN SHOUNG HOCK | MYANMAR 1/MAKANA(NAING) 015204 | NO.41,NAWADAY STREET,DAGON TOWNSHIP, YANGON. | MERCHANT | APPOINTED AS DIRECTOR W.E.F (8 - 2 - 2002) |
| 4. | U TUN AUNG(a)LIN KYAN SIN | MYANMAR 12/TAMANA(PYU) 000008 | NO.67,B-4,BO YAR NYUNT STREET,DAGON TOWNSHIP,YANGON. | MERCHANT | RESIGNED FROM MANA--GING DIRECTOR W.E.F (8 - 2 - 2002) |
| 5 | DAW KHIN KYI | MYANMAR 13/NAKHANA(EI) 000139 | NO.247,KYAIKKASAN ROAD,TAMWE TOWNSHIP, YANGON. | MERCHANT | DIRECTOR |
| 6. | U YEE YONG CHINT | MYANMAR 13/KAMANA(NAING) 023410 | NO.56,CHERRY STREET,(6)QUARTER,KYAUKME TOWNSHIP,NORTHERN SHAN STATE. | MERCHANT | DIRECTOR (VICE CHAIRMAN) |
| 7. | U YAN KYAR SIKE | MYANMAR 13/TAYANA(NAING) 015052 | NO.(4)QUARTER,TANT YAN TOWNSHIP, NORTHERN SHAN STATE. | MERCHANT | DIRECTOR |
| 8. | U THET OO | MYANMAR 12/LAMATA(NAING) 009289 | NO.113,31st STREET,PABEDAN TOWNSHIP, YANGON. | MERCHANT | GENERAL MANAGER |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..............................

Dated this 8 - 2 - 2002 ............

Designation ........U HTAY NAING
Managing Director
UE EXPORT IMPORT CO., LTD



# ASIA WEALTH BANK LIMITED
အာရှဓနဘဏ်လီမိတက်
亚洲经济银行

---

သက်ဆိုင်ရာသို့

ရက်စွဲ။ ၂၀၀၀ပြည့်နှစ်၊ ဇူလိုင်လ(၂၈)ရက်

ဦးဌေးနိုင် (၁၃/နခန(နိုင်)၀၀၀၁၃၀) မန်နေးဂျင်းဒါရိုက်တာအဖြစ် ဆောင်ရွက်သော UF Export Import Co.,Ltd သည် ကျွန်တော်များ၏ဘဏ် (တရုတ်တန်းဘဏ်ခွဲ)တွင် ငွေစာရင်းဖွင့်လှစ်ထားရှိပြီး သွက်လက်စွာ စာရင်းဆောင်ရွက်နေပါသည်။ ၎င်းကုမ္ပဏီသည် ငွေကြေးခိုင်မာမှုရှိသည့် ကုမ္ပဏီတစ်ခုဖြစ်ကြောင်းနှင့် ကျွန်တော်များဘဏ်၏ Customer ကောင်းတစ်ဦးဖြစ်ကြောင်း ထောက်ခံအပ်ပါသည်။

(သိန်းခိုင်)
ဒုတိယအုပ်ချုပ်မှုဒါရိုက်တာ
အာရှဓနဘဏ်လီမိတက်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက် ၁၉၁၄

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသည့် အများနှင့် မသက်ဆိုင်သောကုမ္ပဏီ

# ယူ အီး အိပ်(စ်)ပို့ အင်ပို့ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့ မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

MEMORANDUM OF ASSOCIATION

AND

ARTICLES OF ASSOCIATION

OF

# U E EXPORT IMPORT COMPANY LIMITED

" ယူအီး ကုမ္ပဏီလီမိတက် " ၏ ၃-၉-၉၃ နေ့တွင်ပြုလုပ်သည့်အထူး အစည်းအဝေး ဆုံးဖြတ်ချက်နှင့် ကုမ္ပဏီများ မှတ်ပုံတင်ရုံး၏ (၁၆-၉-၉၃) နေ့စွဲပါစာအမှတ် ည-၂/၁/န၀တ/၁၄၀၄ အရ၊ ကုမ္ပဏီအမည် ပြောင်းလဲပြင်ဆင်ခြင်းဖြစ်ပါသည်။

အလားတူကျန်စာအုပ်များ မှာလည်း ပြင်ဆင်ပြီး ဖြစ်ပါသည်။




U HTAY NAING
Managing Director
...PORT IMPORT CO. LTD.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ယူအီး အိပ်(စ်)ပို့ အင်ပို့ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

* * * * * * * *

၁။ ဤကုမ္ပဏီ၏ အမည်သည် **ယူအီး အိပ်(စ်)ပို့ အင်ပို့ ကုမ္ပဏီ လီမိတက်** ဖြစ်သည်၊

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိလိမ့်မည်၊

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ အောက်ပါအတိုင်းဖြစ်သည်၊

(၁) အောက်ပါလုပ်ငန်းများကို မိမိတစ်ဦးတည်း ဖြစ်စေ၊ အခြားမည်သည့် နိုင်ငံခြား သို့မဟုတ် ပြည်တွင်း လုပ်ငန်းများနှင့် ဖြစ်စေ ဖက်စပ်လုပ်ငန်း၊ ပူးပေါင်းဆောင်ရွက်ခြင်းလုပ်ငန်း၊ သို့မဟုတ် အစုစပ်လုပ်ငန်း အဖြစ်ဖြင့် လုပ်ကိုင်ရန်၊

(က) သွင်းကုန် လုပ်ငန်းရှင်များ၊ ထုတ်ကုန်လုပ်ငန်းရှင်များ၊ စက်မှုလုပ်ငန်းရှင်များနှင့် အထွေထွေ ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းရှင်များ၊ အပ်ကုန်စနစ်ဖြင့် ကုန်ပစ္စည်းတင်ပို့သူ လုပ်ငန်းရှင်များနှင့် ကုန်ပစ္စည်း လက်ခံသူ လုပ်ငန်းရှင်များ၏ လုပ်ငန်းများ၊

(ခ) ပစ္စည်းအမျိုးမျိုးနှင့် ပတ်သက်၍ လက်ကားရောင်းသူများနှင့် လက်လီရောင်းသူများ၊ ကုန်လှောင်ရုံ လုပ်ကိုင်သူများ၊ ကုန်လှောင်သူများ၊ ပွဲစားများ၊ ကော်မရှင်စားကိုယ်စားလှယ်များ၊ ကုန်ပစ္စည်း ပို့ဆောင်ရေးနှင့် ကုန်စည်ရှင်းလင်းရေး ကိုယ်စားလှယ်များ၏ လုပ်ငန်းများ၊

(ဂ) ရေထွက်ကုန်ပစ္စည်းများဖြစ်သည့် ရေချိုရေငန် ငါး၊ ပုစွန်၊ ငါးခြောက်၊ ပုစွန်ခြောက်နှင့် ရေခဲစိမ်ငါး၊ ပုစွန်များ၊ မျှင်ငါးပိနှင့် မျှင်ငံပြာရည်၊ ငါးပိနှင့် ငါးငံပြာရည်၊ စည်သွတ်ဗူးနှင့် ပြုပြင်ပြီး ရေချိုရေငန် ငါးနှင့်ပုစွန်၊ ငါးမန်းတောင်၊ ငါးစိမ်ပေါင်းများ၊ ရေနူများ၊ ဂဏန်းအရှင်များ၊ ငါးအရှင်များနှင့် အခြားသော ရေထွက်ကုန်ပစ္စည်းများကို လက်လီလက်ကား ရောင်းဝယ်ရေး၊ ပြုပြင်ထုတ်လုပ်ရေး၊ကြိတ်ခွဲရေး၊ကုန်ထုတ်လုပ်ရေး၊ဖြန့်ချိရေး၊သယ်ယူပို့ဆောင်ရေး၊သိုလှောင်ရေးနှင့် နိုင်ငံခြားသို့ တင်ပို့ရေး လုပ်ငန်းများ၊

(ဃ) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများဖြစ်သည့် မြေပဲ၊ နှမ်း၊ ရာဘာ၊ ပဲမျိုးစုံ သီးနှံများ၊ မျိုးစေ့များ၊ သစ်သီးဝလံများနှင့် ပန်းမာလ်များကို စိုက်ပျိုးထုတ်လုပ်ခြင်း၊ လက်လီ လက်ကား ရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ ပြည်ပသို့ တင်ပို့ရောင်းချခြင်း၊ ပြည်ပမှ တင်သွင်းခြင်း လုပ်ငန်းများ၊

(င) သဘာဝ မြေဩဇာများ၊ ဓာတ်မြေဩဇာများ၊ ပိုးသတ်ဆေးများနှင့် တိရစ္ဆာန် အစားအစာ များကို ထုတ်လုပ်ရေး၊ လက်လီလက်ကား ဝယ်ယူရောင်းချရေး လုပ်ငန်းများ၊

(စ) သစ်စက်များ တည်ထောင်ခြင်းနှင့် ကျွန်းသစ်မှအပ အခြားသော သစ်များ၊ သစ်တောထွက်ပစ္စည်း များကို ထုတ်လုပ်ရေးအတွက် သစ်ကွက်ငှားရမ်းရယူခြင်း၊ ခုတ်လှဲထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ အသားသေစေခြင်း၊ ရောင်းဝယ်ဖောက်ကားခြင်း နှင့် ပြည်ပသို့ တင်ပို့ရောင်းချခြင်း လုပ်ငန်းများ၊

(ဆ) အမျိုးမျိုးသော လက်မှုအနုပညာပစ္စည်းများ၊ ပန်းပုထွင်းပစ္စည်းများ၊ ပန်းချီကားချပ်များ၊ ယွန်းထည် ပစ္စည်းများနှင့် ပရိဘောဂများကို ထုတ်လုပ်ရေး၊ ဝယ်ယူရေးနှင့် ရောင်းချရေးလုပ်ငန်းများ၊

(ဇ) တိရစ္ဆာန် မွေးမြူခြင်းနှင့် တိရစ္ဆာန်နှင့် တိရစ္ဆာန်ထွက် ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ရေး၊ စည်သွတ်ရေးနှင့် အထက်ဖော်ပြပါ ပစ္စည်းများအား ဝယ်ယူရေး၊ ရောင်းချရေး၊ ဖြန့်ဖြူးရေး၊ သယ်ယူပို့ဆောင်ရေး၊ သိုလှောင်ရေး၊ပြည်တွင်းသို့ တင်သွင်းရေးနှင့်ပြည်ပသို့ တင်ပို့ရေးလုပ်ငန်းများ၊

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ယူ အီး ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ ဤကုမ္ပဏီ၏ အမည်သည် ယူ အီး ကုမ္ပဏီ လီမိတက် ဖြစ်သည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိလိမ့်မည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) အောက်ပါ လုပ်ငန်းများကို မိမိတစ်ဦးတည်းဖြစ်စေ၊ အခြား မည်သည့် နိုင်ငံခြား သို့မဟုတ် ပြည်တွင်း လုပ်ငန်းများနှင့် ဖြစ်စေ ဖက်စပ်လုပ်ငန်း၊ ပူးပေါင်းဆောင်ရွက်ခြင်းလုပ်ငန်း၊ သို့မဟုတ် အစုစပ်လုပ်ငန်း အဖြစ်ဖြင့် လုပ်ကိုင်ရန်။

(က) သွင်းကုန် လုပ်ငန်းရှင်များ၊ ထုတ်ကုန် လုပ်ငန်းရှင်များ၊ စက်မှု လုပ်ငန်းရှင်များ နှင့် အထွေထွေ ကုန်သန်းရောင်းဝယ်ရေး လုပ်ငန်းရှင်များ၊ အပ်ကုန်စနစ်ဖြင့် ကုန်ပစ္စည်းတင်ပို့သူ လုပ်ငန်းရှင်များနှင့် ကုန်ပစ္စည်း လက်ခံသူ လုပ်ငန်းရှင်များ၏ လုပ်ငန်းများ၊

(ခ) ပစ္စည်းအမျိုးမျိုးနှင့် ပတ်သက်၍ လက်ကား ရောင်းသူများနှင့် လက်လီ ရောင်းသူများ၊ ကုန်လှောင်ရုံ လုပ်ကိုင်သူများ၊ ကုန်လှောင်သူများ၊ ပွဲစားများ၊ ကော်မရှင်စား ကိုယ်စားလှယ်များ၊ ကုန်ပစ္စည်း ပို့ဆောင်ရေးနှင့် ကုန်စည်ရှင်းလင်းရေး ကိုယ်စားလှယ်များ၏ လုပ်ငန်းများ၊

(ဂ) ရေထွက်ကုန်ပစ္စည်းများဖြစ်သည့် ရေချိုရေငန် ငါး၊ ပုစွန်၊ ငါးခြောက်၊ ပုစွန်ခြောက်နှင့်ရေခဲစိမ် ငါး၊ ပုစွန်များ။ မျှင်ငါးပိနှင့် မျှင်ငန်ပြာရည်၊ ငါးပိနှင့် ငါးငန်ပြာရည်၊ စည်သွတ်ပြီးနှင့် ပြုပြင်ပြီး ရေချို ရေငန် ငါးနှင့် ပုစွန်၊ ငါးမန်းတောင်၊ ငါးစီဖောင်းများ၊ ရေခူများ၊ ဂဏန်းအရှင်များ၊ ငါးအရှင်များနှင့် အခြားသော ရေထွက်ကုန်ပစ္စည်းများကို လက်လီလက်ကား ရောင်းဝယ်ရေး၊ ပြုပြင်ထုတ်လုပ်ရေး၊ ကြိတ်ခွဲရေး၊ ကုန်ထုတ်လုပ်ရေး၊ ဖြန့်ချိရေး၊ သယ်ယူပို့ဆောင်ရေး၊ သိုလှောင်ရေးနှင့် နိုင်ငံခြားသို့ တင်ပို့ရေး လုပ်ငန်းများ၊

(ဃ) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများဖြစ်သည့် မြေပဲ၊ နှမ်း၊ ရာဘာ၊ ပဲမျိုးစုံ သီးနှံများ၊ မျိုးစေ့များ၊ သစ်သီးဝလံများနှင့် ပန်းမာလ်များကို စိုက်ပျိုးထုတ်လုပ်ခြင်း၊ လက်လီ လက်ကား ရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ ပြည်ပသို့ တင်ပို့ရောင်းချခြင်း၊ ပြည်ပမှ တင်သွင်းခြင်း လုပ်ငန်းများ၊

(င) သဘာဝ မြေသြဇာများ၊ ဓာတ်မြေသြဇာများ၊ ပိုးသတ်ဆေးများနှင့် တိရစ္ဆာန် အစာအစာ များကို ထုတ်လုပ်ရေး၊ လက်လီလက်ကား၊ ဝယ်ယူရောင်းချရေး လုပ်ငန်းများ၊

(စ) သစ်စက်များ တည်ထောင်ခြင်းနှင့် ကျွန်းသစ်မှ အပ အခြားသော သစ်များ၊ သစ်တောထွက် ပစ္စည်း များကို ထုတ်လုပ်ရေးအတွက် သစ်ကွက်ငှားရမ်းရယူခြင်း၊ ခုတ်လှဲထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ အသားသေစေခြင်း၊ ရောင်းဝယ်ဖောက်ကားခြင်း နှင့် ပြည်ပသို့ တင်ပို့ရောင်းချခြင်း လုပ်ငန်းများ၊

(ဆ) အမျိုးမျိုးသော လက်မှုအနုပညာ ပစ္စည်းများ၊ ပန်းပုထွင်း ပစ္စည်းများ၊ ပန်းချီကားချပ်များ၊ ယွန်းထည် ပစ္စည်းများနှင့် ပရိဘောဂများကို ထုတ်လုပ်ရေး၊ ဝယ်ယူရေးနှင့် ရောင်းချရေး လုပ်ငန်းများ၊

(ဇ) တိရစ္ဆာန် မွေးမြူခြင်းနှင့် တိရစ္ဆာန်နှင့် တိရစ္ဆာန်ထွက် ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ရေး၊ စည်သွတ်ရေးနှင့် အထက်ဖော်ပြပါ ပစ္စည်းများအား ဝယ်ယူရေး၊ ရောင်းချရေး၊ ဖြန့်ဖြူးရေး၊ သယ်ယူပို့ဆောင်ရေး၊ သိုလှောင်ရေး၊ ပြည်တွင်းသို့ တင်သွင်းရေးနှင့် ပြည်ပသို့ တင်ပို့ရေးလုပ်ငန်းများ၊

(ဈ) စားသုံးသီးနှံများနှင့် စားသုံးဥများကို ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ သိုလှောင်ခြင်း၊ လက်လီလက်ကား ရောင်းဝယ်ခြင်း လုပ်ငန်းများ၊

(ည) ဧည့်ခံဖျော်ဖြေရေးလုပ်ငန်း၊ ကြော်ငြာခြင်းနှင့် အများအား အသိပေးခြင်း လုပ်ငန်း၊ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်းများ၊

(ဋ) အဆောက်အအုံ ဆောက်လုပ်သူများ၏ အလုပ်၊ ကန်ထရိုက်တာများ၏ အလုပ်၊ ပြင်ဆင်မွမ်းမံ အလှတန်ဆာဆင်သူများ၏ အလုပ်၊ ကုန်ပစ္စည်း ထုတ်လုပ်သူများ၏ အလုပ်နှင့် ကျောက်၊ သဲ၊ ထုံး၊ အုတ်၊ အုတ်ကြွပ်၊ မှန်၊ သံချောင်း သစ်မာ(ကျွန်းသစ်မှအပ)၊ ကုန်မာပစ္စည်း၊ သုတ်ဆေးနှင့် အခြားသော ဆောက်လုပ်ရေး ပစ္စည်းများနှင့် မြေယာအိုးအိမ် ရောင်းဝယ်သူများ၏ လုပ်ငန်းများ၊

(ဌ) မြို့ပြအင်ဂျင်နီယာလုပ်ငန်း၊ ဗိသုကာလုပ်ငန်းများကို ကန်ထရိုက်စနစ်ဖြင့် တာဝန်ခံ ဆောင်ရွက်ခြင်း လုပ်ငန်း၊ စူးစမ်းလေ့လာခြင်း၊ သုတေသနပြုခြင်း၊ စီမံချက် ရေးဆွဲခြင်း၊ ပုံစံဒီဇိုင်း ထုတ်လုပ်ခြင်း၊ ကြီးကြပ်ကွပ်ကဲခြင်း၊ ဝယ်ယူစုဆောင်းခြင်း၊ နည်းပညာဆိုင်ရာ လမ်းညွှန်ခြင်းနှင့် အခြား အင်ဂျင်နီယာ လုပ်ငန်းနှင့် ပတ်သက်သော လုပ်ငန်းများ၊ ဆောက်လုပ်ရေး၊ စက်မှုလက်မှုလုပ်ငန်းများ၊ စီမံခန့်ခွဲခြင်းနှင့် အတိုင်ပင်ခံ လုပ်ငန်းများ၊ စက်ရုံများ၊ အလုပ်ရုံများ၊ စက်များ၊ အခြား ပင်မအဆောက်အအုံများ ထူထောင် တပ်ဆင်ခြင်းတို့တွင် လည်းကောင်း၊ စက်မှုလက်မှု လုပ်ငန်းအသစ်များနှင့် စီးပွားရေး စီမံကိန်းသစ်များ၊ စီမံကိန်းများ၌ လည်းကောင်း၊ ဖြစ်မြောက်နိုင်စွမ်း ရှိ မရှိ လေ့လာခြင်း၊ ခန့်မှန်း ကုန်ကျစရိတ် တွက်ချက်ခြင်း၊ ကွင်းဆင်းလေ့လာတွက်ချက်ခြင်းနှင့် သက်ဆိုင်ရာ လုပ်ငန်းများကို စမ်းသပ်လည်ပတ်ခြင်း လုပ်ငန်းများ၊

(ဍ) ဒါရိုက်တာအဖွဲ့မှ သဘောတူ ဆုံးဖြတ်သော ကုန်ပစ္စည်းများ ထုတ်လုပ်ရန်အတွက် စက်ရုံများ တပ်ဆင်တည်ထောင်ရေး လုပ်ငန်းများ၊

(ဎ) အမျိုးအစား အမျိုးအမည်မရွေး နိုင်ငံအားလုံးမှ ထုတ်လုပ်သည့် စက်ပစ္စည်းများ၊ မော်တော်ယာဉ်များ၊ ဘတ်စ်ကားများ၊ ထရပ်ကားများ၊ နောက်တွဲယာဉ်များနှင့် မော်တော်ဆိုင်ကယ်များကို အသစ်ဖြစ်စေ၊ အသုံးပြုပြီး ဖြစ်စေ၊ ပြန်လည်မွမ်းမံပြင်ဆင်ပြီး ဖြစ်စေ ပြည်ပမှ တင်သွင်းသည့်လုပ်ငန်းများ၊ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်းများ၊ လက်လီလက်ကား ရောင်းဝယ်ဖောက်ကားသူများ၏ လုပ်ငန်းများ၊

(ဏ) ဟိုတယ်များ၊ မိုတယ်များ၊ ကော်ဖီဆိုင်များ၊ အဖျော်ယမကာအရောင်းဆိုင်များနှင့် စားသောက်ဆိုင်များ၊ စတိုးဆိုင်များနှင့် အခြားသော ကုန်မျိုးစုံဆိုင်များ၊ အနားယူအပန်းဖြေစခန်းများ၊ လမ်းခရီးတွင် ရပ်နားတည်းခိုနိုင်သည့် အိမ်များ၊ အားလပ်ရက် အပန်းဖြေစခန်းများ၊ ဘီးတပ်ထားသည့် အိမ်ငယ်များ၊ အခန်းအများအပြားပါ အိမ်ခန်းပိုင်ရှင်များ၊ အစားအစာနှင့် စည်သွပ်ပစ္စည်း ထောက်ပံ့ပေးသွင်းသူများ ပျော်ပွဲရှင်ပွဲမျိုးစုံ ခင်းကျင်းပြသသူများ၏ လုပ်ငန်းများကို ဖွင့်လှစ်ရေးနှင့် ဆောင်ရွက်ရေး လုပ်ငန်းများ၊

(တ) ငါးဖမ်းပိုက်များ၊ ငါးမျှားကြိုးများ၊ ငါးမျှားတံများ၊ ကြိုးများနှင့် အခြား ငါးဖမ်းလုပ်ငန်းတွင် လိုအပ်သည့် ကိရိယာတန်ဆာပလာများကို ထုတ်လုပ်ခြင်း၊ လက်လီလက်ကား ရောင်းဝယ်ခြင်း၊ နိုင်ငံခြားမှ တင်သွင်းခြင်းနှင့် နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်းများ၊

(ထ) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော ပလပ်စတစ်နှင့် ပလပ်စတစ် ပစ္စည်းများ၊ သားရေကွင်းများ၊ ရာဘာဆိုးပြားများ၊ မိုးကာဖျင်များနှင့် အခြား ပလပ်စတစ် ရာဘာနှင့် ပတ်သက်ဆက်နွယ်သမျှ ထွက်ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ လက်လီလက်ကား ရောင်းဝယ်ခြင်း၊ နိုင်ငံခြားမှ တင်သွင်းခြင်းနှင့် နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်းများ၊

(ဒ) ကုမ္ပဏီအား အကျိုးဖြစ်ထွန်းစေမည် ဆိုပါက အထက်ပါ လုပ်ငန်းရည်ရွယ်ချက်များနှင့် ပတ်သက်ခြင်း ရှိသည် ဖြစ်စေ၊ မရှိသည် ဖြစ်စေ အခြား မည်သည့်စီးပွားရေး လုပ်ငန်းများကို မဆို ဆောင်ရွက်ရန်၊

(၂) သနခါး(အစို၊ အခြောက်၊ အရည်၊ အမှုန့် စသည့်များ)နှင့် သနခါးအား ပြုပြင်ပြောင်းလဲ ထုတ်လုပ်ထွက်ရှိသည့် ထွက်ကုန်များကို လက်လီလက်ကား ဝယ်ယူ ရောင်းချရန်၊ ကြိတ်ခွဲရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ဖြူးရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်နှင့် နိုင်ငံခြားသို့ တင်ပို့ရန်။

(၃) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော အမွှေးနံ့သာများ၊ အလှကုန်ပစ္စည်းများနှင့် လူသုံးကုန်ပစ္စည်းများကို နိုင်ငံခြားသို့ တင်ပို့သူများအလုပ်၊ ပြည်တွင်းသို့ တင်သွင်းသူများအလုပ်၊ ထုတ်လုပ်သူများအလုပ်၊ လက်လီလက်ကား ရောင်းဝယ်သူများ၏ အလုပ်ကို လုပ်ကိုင်ဆောင်ရွက်ရန်၊

(၄) လူနှင့် တိရစ္ဆာန်သုံး ဆေးဝါးနှင့် ဆေးဝါးကုန်ကြမ်း ပစ္စည်းများ၊ ဓာတုဗေဒ ပစ္စည်းများနှင့် စက်မှုလုပ်ငန်းသုံး ကုန်ကြမ်းပစ္စည်းများကို လက်လီလက်ကား ဝယ်ယူ ရောင်းချရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ဖြူးရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်၊ နိုင်ငံခြားမှ တင်သွင်းရန်နှင့် နိုင်ငံခြားသို့ တင်ပို့ရန်။

(၅) နိုင်ငံတော်အစိုးရ၏ ခွင့်ပြုချက်ဖြင့်သတ္တုတွင်းများကို ရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ၄င်းထွက်ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်။

